မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အတည်ပြုလျှောက်ထားလွှာ

# ကရင်ပြည်နယ်၊မြဝတီမြို့နယ်
# လေးကေ့ကော်မြို့သစ်နှင့်ပါတ်ဝန်းကျင်ရှိကျေးရွာများသို့
# ဒီဇယ်ဆီသုံး Generatorများဖြင့်
# လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

စိမ်းလန်းခြင်းအင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်

Green Alliance Energy Co., Ltd.

GAE
Green Alliance Energy

# GREEN ALLIANCE ENERGY Co., Ltd.

နောက်ဆက်တွဲ ( ၃၁ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ GAE/MIC /Approval/ 2018-19 ( )
ရက်စွဲ။ ၂၀၁၈ ခုနှစ် ၊ မတ်လ ၂၉ ရက်

အကြောင်းအရာ၊ **Green Alliance Energy Co.,Ltd. မှ လေးကော့ကော်မြို့သစ်နှင့် ပတ်ဝန်းကျင် ကျေးရွာများသို့ လျှပ်စစ်ဓါတ်အားဖြန့်ဖြူး ရောင်းချရေးနှင့် ပတ်သက်၍ ဆောင်ရွက်မည့်လုပ်ငန်း အကျဉ်းချုပ်အားရှင်းလင်းတင်ပြခြင်း။**

ရည်ညွှန်းချက်။ **၂၀၁၈ ခုနှစ် ၊မတ်လ ၉ ရက် နေ့စွဲဖြင့် ကရင်ပြည်နယ်အစိုးရအဖွဲ့ နှင့် ကုမ္ပဏီ အကြားချုပ်ဆိုခဲ့သော လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ပဋိညာဉ်စာချုပ်**

၁။ Green Alliance Energy Co.,Ltd. သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့် အညီ ကုမ္ပဏီဖွဲ့စည်းခွင့်ကို ၂၀-၁၂-၂၀၁၅ ရက်နေ့တွင် မှတ်ပုံတင်အမှတ် ၊ ၁၃၀၉ / ၂၀၁၅-၂၀၁၆ (နပတ) ဖြင့် ကုမ္ပဏီမှတ်ပုံတင်ခွင့်ပြုချက်ရရှိခဲ့ပါသည် ။ ကုမ္ပဏီအနေဖြင့် နိုင်ငံတော်မှချမှတ်အကောင်အထည်ဖော်နေသည့် ဖွံ့ဖြိုးမှုနည်းသောဒေသများတွင် လျှပ်စစ်မီးရရှိရေးလုပ်ငန်းအတွက် အထောက်အကူဖြစ်စေရန်ရည်ရွယ်၍ ငြိမ်းချမ်းရေးရယူထားသည့် အဖွဲ့အစည်းများအတွက် မြို့သစ်တည်ဆောက်နေသော လေးကော့ကော်မြို့သစ်နှင့် အနီးပတ်ဝန်းကျင်ကျေးရွာများသို့ ၂၄နာရီလျှပ်စစ်မီးဖြန့်ဖြူးပေးနိုင်ရေးအတွက် ရင်းနှီးမြှုပ်နှံရန်ဆောင်ရွက်ခဲ့ပါသည်။ ထိုသို့ ရင်းနှီးမြှုပ်နှံ လုပ်ငန်းဆောင်ရွက်ရန်အတွက် ၂၀၁၇ခုနှစ်၊ နိုဝင်ဘာလမှစတင်၍ ၎င်းဒေသသို့သွားရောက်ပြီး ကွင်းဆင်းလေ့လာတိုင်တာခြင်းများ နှင့် ကရင်ပြည်နယ်အစိုးရအဖွဲ့မှတာဝန်ရှိများ၊ လေးကော့ကော်မြို့သစ်တည်ဆောက်ရေးကော်မီတီမှတာဝန်ရှိသူများနှင့် တွေ့ဆုံဆွေးနွေးညှိနှိုင်းခြင်းတို့ကို လုပ်ဆောင်ခဲ့ပါ သည်။

၂။ လေးကော့ကော်မြို့သစ်သည် မြဝတီမြို့မှ (၆) မိုင်ခန့်အကွာအဝေးတွင်တည်ရှိပြီး ၊ ငြိမ်းချမ်းရေးအဖွဲ့အစည်းများအတွက် JICA ၏ အကူအညီဖြင့် မြို့တည်ဆောက်အကောင်အထည် ဖော်နေသည့်မြို့သစ်ဖြစ်ပါသည် ၊ ၎င်းဒေသသည် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်ဖြန့်ဖြူးပေးနိုင်ခြင်းမရှိသေးသော မြို့တစ်မြို့လည်းဖြစ်ပါသည် ။ သို့ပါ၍ ကုမ္ပဏီအနေဖြင့် လျှပ်စစ်ဓါတ်အား ၂ မဂ္ဂါဝပ်ထုတ်လုပ်ပေးနိုင်မည့်စက်ရုံ(2 Mega Watt Power Plant) ကို တည်ဆောက်ပြီး မြဝတီမြို့နယ်အတွင်း လေးကော့ကော်မြို့သစ်နှင့် အနီးဝန်းကျင်ရှိကျေးရွာများသို့ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချရန်းအတွက် ရင်းနှီးမြှုပ်နှံမှုများလုပ်ဆောင်သွားရန် ရွေးချယ်လုပ်ဆောင်ခဲ့ပါသည်။

www.gae.energy
No. 310, Corner of Wa Dan St & Anawrahta Rd,
Win Shwe Wah Condo, Room - 004,
Lanmadaw Township, Yangon
No. 101 (B), Aung Chan Thar Housing,
Aung Chan Thar Ward,
Thanlyin Township, Yangon
Tel : +951-230 2442, +951-230 2443 Fax : +951-230 2442

၃။ အဆိုပါရင်းနှီးမြှုပ်နှံမည့်လုပ်ငန်းအတွက် လေးကေ့ကော်မြို့သစ်တွင် မြေနေရာ(၅.၀၀)ဧကကို ဒေသတာဝန်ရှိသူများနှင့် ညှိနှိုင်း၍ဝယ်ယူခဲ့သည့်အပြင် KNU တပ်မဟာ(၆) ၏ ဘက်စုံစိုက်ပျိုးမွေးမြူရေးခြံ မြေနေရာ (၂.၀) ဧကကိုလည်း စာချုပ်ချုပ်ဆို ငှားရမ်းခဲ့ပါသည်။ ၎င်းမြေနေရာများတွင် ဓါတ်အားပေးစက်ရုံ ၊ အုပ်ချုပ်ကွပ်ကဲမှုရုံးနှင့် ဝန်ထမ်းအိမ်ယာများ တည်ဆောက်သွားရန်ဖြစ်ပြီး ၊ မြေနေရာပိုင်ဆိုင်မှု နှင့် လယ်ယာမြေကို အခြားနည်းဖြင့် ပြောင်းလဲအသုံးချခွင့်အတွက် ဒေသအာဏာပိုင်များမှ ထောက်ခံခွင့်ပြုပေးခဲ့ပါသည် ။ ( မြို့သစ်အကောင်အထည်ဖော်တည်ဆောက်ရေး ကော်မီတီ၏ထောက်ခံစာအား ပူးတွဲတင်ပြအပ်ပါသည်) ထိုသို့ ရင်းနှီးမြှုပ်နှံမှုအတွက် ခွင့်ပြုချက်ရရှိရေးကို သက်ဆိုင်ရာပြည်နယ်အစိုးရသို့ တင်ပြဆောင်ရွက်ခဲ့ရာတွင် ကရင်ပြည်နယ်အစိုးရအဖွဲ့ထံမှ သဘောတူခွင့်ပြုချက်ရရှိခဲ့ပါသဖြင့် ၊ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ကရင်ပြည်နယ်အစိုးရအဖွဲ့ နှင့် လုပ်ငန်းဆောင်ရွက်ခွင့် ပဋိညာဉ်စာချုပ်ကို ၉-၃-၂၀၁၈ ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ ရည်ညွှန်းချက်ပါ ပဋိညာဉ် စာချုပ်အား နောက်ဆက်တွဲ ဖြင့် ဖော်ပြအပ်ပါသည်။

၄။ အထက်ဖော်ပြပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအား ထုတ်လုပ်မှုနှင့် ဖြန့်ဖြူးရောင်းချခြင်းဟု လုပ်ငန်းကဏ္ဍအား (၂)ပိုင်းခွဲ၍ ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ လုပ်ငန်းအား ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့် ကာလကို (၁၀)နှစ်သတ်မှတ်ဆောင်ရွက်ပါမည်။ ထုတ်လုပ်မှုလုပ်ငန်းအတွက် မြေနေရာ(၂.၀)ဧကကို ဒေသခံငြိမ်းချမ်းရေးအဖွဲ့၏ ဘက်စုံစိုက်ပျိုးရေးနှင့် မွေးမြူရေးမြေနေရာတွင် အဆောက်အဦးများဆောက်လုပ်ရန် မြေနေရာရှင်းလင်းခြင်း နှင့် အဆောက်အဦးများ ဆောက်လုပ်ခြင်းကို စတင်လုပ်ဆောင်လျှက်ရှိပြီး ၊ဓါတ်အားပေးတိုင်များစိုက်ထူခြင်းနှင့် Power Cable များသွယ်တန်းခြင်းတို့ကိုလည်း အကောင်အထည်ဖော်လုပ်ဆောင်လျှက်ရှိပါသည် ၊ ( လုပ်ငန်းဆောင်ရွက်နေသော မှတ်တမ်းဓါတ်ပုံများကို ပူးတွဲတင်ပြအပ်ပါသည်။) အဆိုပါ သဘောတူညီချက်အပေါ် အခြေခံပြီး (2.0 MW) လျှပ်စစ်ဓါတ်အားပေးစက်ရုံအတွက် Generator (၃)လုံး နှင့် ဆက်စပ်ပစ္စည်းများကို United Kingdom နိုင်ငံရှိ AGGREKO INTERNATIONAL COMPANY LIMITED မှ ငှားရမ်းတင်သွင်းရန်အတွက် စာချုပ်ချုပ်ဆိုခဲ့ပါသည် ၊ (အဆိုပါချုပ်ဆိုခဲ့သော Generator နှင့် ဆက်စပ်ပစ္စည်း အငှားစာချုပ်အား ပူးတွဲတင်ပြအပ်ပါသည်) ငှားရမ်းစာချုပ်သက်တမ်းမှာ (၂)နှစ် ဖြစ်သော်လည်း ထပ်မံသက်တမ်း တိုးချုပ်ဆိုရန် Aggreko ကုမ္ပဏီနှင့် ကြိုတင်ညှိနှိုင်းသဘောတူထားပြီး ဖြစ်ပါသည်။ ထို့အပြင် ကုမ္ပဏီအနေဖြင့် ဤလျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းကို အမြတ်ရရှိရန်ဆိုသော စီးပွားရေးအမြင်တစ်ရပ်ဖြင့်သာ ရင်းနှီးမြှုပ်နှံရန်ရည်ရွယ်လုပ်ဆောင်နေခြင်းမဟုတ်ဘဲ နိုင်ငံတော်၏ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို အထောက်အကူပြုစေရန် ၊ အဆိုပါဒေသတွင်နေထိုင်ကြသည့် ကရင်တိုင်းရင်းသားများအပါအဝင် ဒေသခံပြည်သူများ၏ လူမှုဘဝများ ဖွံ့ဖြိုးတိုးတက်စေရန် နှင့် ဒေသငြိမ်းချမ်းရေး၊ အေးချမ်းသာယာရေး ၊ ဒေသဖွံ့ဖြိုးတိုးတက်ရေး အပြင် နိုင်ငံတော်အတွက် အခွန်အခများရရှိစေရန် တို့ကိုလည်း ရည်ရွယ်ထားပါသဖြင့် လုပ်ငန်းအား ရေရှည်ရင်းနှီးမြှုပ်နှံ လုပ်ဆောင်သွားလိုခြင်းဖြစ်ပါသည်။ အထူးအားဖြင့် လျှပ်စစ်ဓါတ်အားယူနစ်ခနှုန်းထားကို ဒေသခံပြည်သူများအား ပိုမိုသက်သာသောနှုန်းဖြင့် ရောင်းချပေးနိုင်ရန်အတွက် ပိုမိုကောင်းမွန်သောနည်းလမ်း၊ ထုတ်လုပ်မှုစရိတ် လျှော့ချနိုင်မည့်နည်းလမ်းများကိုလည်း စဉ်းစားပြီးထပ်မံရင်းနှီးမြှုပ်နှံမှုများ လုပ်ဆောင်သွားမည် ဖြစ်ပါသည်။



No. 310, Corner of Wa Dan St & Anawrahta Rd,
Win Shwe Wah Condo, Room - 004,
Lanmadaw Township, Yangon

No. 101 (B), Aung Chan Thar Housing,
Aung Chan Thar Ward,
Thanlyin Township, Yangon

Tel : +951-230 2442, +951-230 2443 Fax : +951-230 2442

၅။ တည်ဆောက်ရေးလုပ်ငန်းများဖြစ်သည့် မြေနေရာရှင်းလင်းခြင်း ၊ Generator နှင့် ဆက်စပ်ပစ္စည်းများ မှာယူခြင်း ၊ဓါတ်အားဖြန့်ဖြူးကွပ်ကဲရေးရုံးအပါအဝင် အဆောက်အဦးများတည်ဆောက်ခြင်း ၊ လျှပ်စစ်ဓါတ်အား တိုင်များ စိုက်ထူခြင်းနှင့် Power Cable များသွယ်တန်းခြင်း ၊ Generator များအားတပ်ဆင်ခြင်း နှင့် စမ်းသပ်ဓါတ် အားဖြန့်ဖြူးခြင်း လုပ်ငန်းအဆင့်ဆင့်အတွက် ခန့်မှန်းကြာမြင့်ချိန်ကာလမှာ (၈)လခန့်ဖြစ်ပြီး မြို့နှင့်ကျေးရွာများသို့ ဖြန့်ဖြူးရောင်းချနိုင်ရန်အတွက် ထပ်မံလိုအပ်ချိန်မှာ (၄)လခန့်ဖြစ်၍ စီးပွားဖြစ်လုပ်ငန်းစတင်နိုင်ရန် လိုအပ်သော ကာလမှာ တစ်နှစ်ခန့်ဖြစ်ပါသည်၊ သို့ရာတွင် အဆိုပါလုပ်ငန်းအဆင့်များကို ကုမ္ပဏီအနေဖြင့် ပဋိညာဉ် စာချုပ်ချုပ်ဆိုပြီးကတည်းက ကြိုတင်ဆောင်ရွက်ခဲ့ပြီး ခန့်မှန်းချိန်ထက် ဆောလျှင်စွာပြီးစီးနိုင်ရေးကို ကုမ္ပဏီ အနေဖြင့် အစွမ်းကုန်ကြိုးစား လုပ်ဆောင်သွားမည်ဖြစ်ပါသည်။

၆။ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် လျှပ်စစ်မီးလင်းရေးကွပ်ကဲမှုရုံးကို Distribution Site အဖြစ်လျာထားသည့် မြေနေရာ(၅.ဂဧက)ပေါ်တွင် တည်ဆောက်သွားမည်ဖြစ်ပြီး ၊ လေးကေ့ကော်မြို့ပေါ်နှင့် ပတ်ဝန်းကျင်ကျေးရွာများသို့ ဖြန့်ဖြူးရောင်းချပေးရန်စီစဉ်ထားပြီးဖြစ်ပါသည်၊ အဆိုပါလုပ်ငန်းအတွက် ခေတ်မီ သော Smart Meter Box များကို မှာယူတင်သွင်းသွားမည်ဖြစ်ပြီး ။ မြန်မာနိုင်ငံတွင် အလိုအလျောက် ဓာတ်အား ဖတ်သည့်စနစ် ( Computerize System) ဖြင့် မီတာခဖတ်ရှုကောက်ခံခြင်းစနစ်ကို ပထမဦးဆုံးဆောင်ရွက်သွား ရန်အတွက် ရင်းနှီးလုပ်ဆောင်သွားမည်ဖြစ်ပါသည်၊ ဖြန့်ဖြူးရောင်းချပေးမည့် လျှပ်စစ်မီတာ တစ်ယူနစ်နှုန်းကို ပဋိညာဉ်စာချုပ်ပါနှုန်းထား ရှစ်ဘတ်( 8-Bahts ) သို့မဟုတ် မြန်မာကျပ် ၃၃၆/- နှုန်းဖြင့် ဒေသခံ ပြည်သူ တို့အား ရောင်းချပေးသွားမည်ဖြစ်ပြီး ၊ အသေးစား စက်မှု/လက်မှုလုပ်ငန်းများကို တစ်ယူနစ်ကိုးဘတ် (9-Bahts) နှုန်းဖြင့် ရောင်းချဖြန့်ဖြူးပေးမည်ဖြစ်ပါသည်။ ဒီဇယ်ဆီဈေးကြီးမြင့်မှုအရ လျှပ်စစ်မီတာခနှုန်းမှာလည်း အထိုက်အ လျောက်ကြီးမြင့်နေသည်မှာမှန်သော်လည်း သုံးစွဲသည့်ဒေသခံပြည်သူများ ပိုမိုတိုးတက်များလာပါက ထုတ်လုပ် သည့်လျှပ်စစ်မီတာခ( Unit Cost) လျှော့ချနိုင်သဖြင့် ဒေသခံကျေးရွာများသို့ ပိုမိုသက်သာသောနှုန်းဖြင့် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးပေးသွားရန်ကိုလည်း ရည်ရွယ်ဆောင်ရွက်သွားမည် ဖြစ်ပါသည် ။ တင်ပြအပ်သော လျှပ်စစ်ဓတ်အား ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမည့် ပမာဏမှာ စုစုပေါင်း အမေရိကန် ဒေါ်လာ (၅.၉၅)သန်းခန့် ၊ မြန်မာကျပ်ဖြင့်(၇၈၉၀.၀၃)သန်းခန့်ဖြစ်ပါသည် ၊ အဆိုပါ ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏ ၏ ၉၀% မှာ ဖြန့်ဖြူးရောင်းချခြင်းကဏ္ဍ ( Distribution Site) အတွက် ရင်းနှီး မြှုပ်နှံမည်ဖြစ်ပြီး ၊ National Grid Line ရောက်ရှိလာပါကလည်း ကုမ္ပဏီ၏ Overhead Power Line များဖြင့် လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်းကို ဆက်လက် ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်၊ ရင်းနှီးမြှုပ်နှံမည့်ကာလ (၁၀)နှစ် သက်တမ်းပြည့်ချိန်ထိ National Grid Line ရောက်ရှိမလာသေးပါကလည်း ကုမ္ပဏီအနေဖြင့် ထုတ်လုပ်စရိတ် လျှော့ချနိုင်မည့် နည်းလမ်းများကို ရွေးချယ်ပြီး ရင်းနှီးမြှုပ်နှံမှုကို ထပ်မံတိုးမြှင့်ပြီး ထုတ်လုပ်မှုကို ဆက်လက် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၇။ အဆိုပါလုပ်ငန်းအားရင်းနှီးမြှုပ်သည့်အတွက် လေးကေ့ကော်မြို့နှင့် ပတ်ဝန်းကျင်ကျေးရွာများတွင် လျှပ်စစ် မီးရရှိမည်ဖြစ်ပြီး ၊ ၄င်းလျှပ်စစ်မီးရရှိခြင်းကြောင့် ငြိမ်းချမ်းရေးဒေသ ဖွံ့ဖြိုးတိုးတက်ရေးကို များစွာအထောက်

-၄-

အကျိုးဖြစ်စေမည်ဖြစ်သည့်အပြင် ဒေသခံပြည်သူများ၏ လူမှုဘဝများလည်း ပိုမိုတိုးတက်လာမည်ဖြစ်ပါသည်။ ထို့အပြင် လျှပ်စစ်မီးနှင့်ဆက်နွယ်ပြီး အခြားလုပ်ငန်းများလည်း ဖွံ့ဖြိုးလာနိုင်ပါသဖြင့် ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများလည်း ရရှိစေမည်ဖြစ်သည့်အပြင် ကုမ္ပဏီအနေဖြင့်လည်း အလုပ်အကိုင် အခွင့်အလမ်းများ ဖန်တီးခန့်ထားနိုင်မည်ဖြစ်သည့်အတွက် ပြည်ပသို့သွားရောက်လုပ်ကိုင်သူ အရေအတွက်ကို တစိတ်တပိုင်းလျော့ကျစေမည်ဖြစ်ပါသည်။ ထို့အပြင် ကုမ္ပဏီအနေဖြင့် ဒေသရှိကျေးရွာပြည်သူများ၏ လူမှုဘဝ ဖွံ့ဖြိုးတိုးတက်စေမည့် ပညာရေး၊ ကျန်းမာရေး နှင့် လူမှုရေးကဏ္ဍများ နှင့် ဒေသဖွံ့ဖြိုးရေးကိစ္စများအတွက် ရရှိလာမည့် အမြတ်အစွန်းများမှ(၁%)ကို အသုံးပြုကျခံဆောင်ရွက်ပေးသွားမည်ဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းအား ရင်းနှီးမြှုပ်နှံခွင့်ပြုပေးနိုင်ပါရန် အောက်ဖော်ပြပါ အချက်အလက်တို့အား ပူးတွဲတင်ပြလျှောက်ထားအပ်ပါသည် -

(က) ဂင်ငွေ နှင့် ငွေစာရင်းဆိုင်ရာတွက်ချက်မှုဇယားများ (နောက်ဆက်တွဲ / ည-၁ )
(ခ) လုပ်ငန်းတည်နေရာပြမြေပုံ မိတ္တူများ နှင့် Layout plan ( နောက်ဆက်တွဲ / ည-၂ )
(ဂ) ဂယ်ယူခဲ့သည့်မြေစာချုပ်မိတ္တူ နှင့် မြေငှားရမ်းစာချုပ်မိတ္တူ ( နောက်ဆက်တွဲ/ ည-၃ )
(ဃ) တည်ဆောက်မည့် အဆောက်အဦးတို့၏ Layout Plan မိတ္တူများ ( နောက်ဆက်တွဲ / ည-၄ )
(င ) ဓါတ်အားဖြန့်ဖြူးရောင်းချမည့်ပုံကြမ်း(Distribution Plan Drawing)၊(နောက်ဆက်တွဲ/ည-၅ )
(စ) မြို့အကောင်အထည်ဖော်ရေးကော်မီတီ၏ မြေနေရာအား အခြားနည်းဖြင့်အသုံးချခြင်းအတွက် သဘောထားမှတ်ချက် မိတ္တူ ၊ (နောက်ဆက်တွဲ / ည-၆ )
(ဆ) ခန့်အပ်ရန်လျာထားသည့် ဂန်ထမ်းအင်အားစာရင်း (နောက်ဆက်တွဲ / ည-၇ )
(ဇ) ဂန်ထမ်းများ လုပ်ငန်းခွင်ဘေးကင်းရေး နှင့် ဆောင်ရွက်ပေးမည့် သက်သာချောင်ချိရေး စီမံချက် (နောက်ဆက်တွဲ / ည-၈ )
(ဈ) မီးဘေးလုံခြုံရေးစီမံချက် နှင့် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ် ( နောက်ဆက်တွဲ / ည-၉ )
(ည) Corporate Social Responsibility နှင့်ပတ်သက်၍ ဆောင်ရွက်သွားမည့် အချက်အလက်များ နှင့် ကတိဂန်ခံချက် (နောက်ဆက်တွဲ / ည-၁၀ )
(ဋ) ဂင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်း ကတိဂန်ခံချက် ( နောက်ဆက်တွဲ /ည-၁၁ )
(ဌ) ရှီးမဘာဏ် ၏ Bank Statement မိတ္တူ ( နောက်ဆက်တွဲ / ည-၁၂ )
(ဍ) Temporary Power Plant Agreement with Aggreko Limited (နောက်ဆက်တွဲ/ည-၁၃)

လေးစားမှုဖြင့်

Managing Director

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ကရင်ပြည်နယ်အစိုးရအဖွဲ့နှင့်

Green Alliance EnergyCo.,Ltdတို့အကြားချုပ်ဆိုသည့်

# လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း ၊ ပဋိညာဉ်စာချုပ်

၁။ ဤပဋိညာဉ်စာချုပ်ကို ၂၀၁၈ ခုနှစ်၊မတ်လ၊ ( ၉ ) ရက်နေ့တွင် ကရင်ပြည်နယ်၊ ဘားအံမြို့ ၊ ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံး ၌ ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အစိုးရ ကရင်ပြည်နယ်အစိုးရအဖွဲ့ ကိုယ်စား ကရင်ပြည်နယ် လျှပ်စစ် နှင့် စက်မှုဝန်ကြီး က တစ်ဖက် "နှင့်" မန်နေဂျင်းဒါရိုက်တာ၊ စိမ်းလန်းခြင်းအင်အားစုစွမ်းအင်ကုမ္ပဏီလီမိတက် (Green Alliance Energy Co.,Ltd) က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ကြရန်အတွက် နှစ်ဦးနှစ်ဖက်ရေးသားချုပ်ဆိုကြပါသည်။ အထက်ပါကုမ္ပဏီအား လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ကရင်ပြည်နယ် အစိုးရ အဖွဲ့မှ (၅) နှစ် ( ၈ . ၃ . ၂၀၁၈) မှ ( ၇.၃.၂၀၂၃ ) ထိခွင့်ပြုမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအတွက် ကရင်ပြည်နယ်အစိုးရ အဖွဲ့မှ (၁၀) နှစ် ( ၈ . ၃ . ၂၀၁၈) မှ( ၇ . ၃ .၂၀၂၈ ) ထိခွင့်ပြုမည်ဖြစ်သဖြင့် ကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုသော သက်တမ်းမှာ စာချုပ်ချုပ်ဆိုသည့် နေ့မှစ၍သက်ဆိုင်ရာခွင့်ပြုသည့်နှစ်စေ့ ရောက်သောနေ့တွင် သက်တမ်းကုန်ဆုံးမည် ဖြစ်သည်။ တစ်နှစ်ပြည့်ပြီးတိုင်း စာချုပ်ဆက်လက် ချုပ်ဆိုရမည် ဖြစ်ပြီး သို့မဟုတ်ပါက စာချုပ်ပျက်ပြယ်မည်ဖြစ်သည်။

၂။ ကရင်ပြည်နယ်၊လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းကို "ဌာန" ဟုလည်းကောင်း၊ ကရင်ပြည်နယ်အစိုးရအဖွဲ့ကို "အစိုးရအဖွဲ့" ဟုလည်းကောင်း၊ စိမ်းလန်းခြင်းအင်အားစု စွမ်းအင်ကုမ္ပဏီ လီမိတက်(Green Alliance Energy Co.,Ltd) ကို "ကုမ္ပဏီ" ဟု လည်းကောင်း နောင်တွင် ခေါ်တွင်စေရမည်။ ( "ဌာန" ဟုလည်းကောင်း၊ "အစိုးရအဖွဲ့" ဟုလည်းကောင်း၊ "ကုမ္ပဏီ" ဟုလည်းကောင်း ခေါ်ဆိုရာတွင် ယင်းတို့အပါအဝင် ယင်းတို့၏ ဆက်ခံမည့်သူများ၊ တရားဝင် ကိုယ်စားလှယ်များ၊ ဥပဒေနှင့် အညီ ဆက်ခံခွင့်ရသူများလည်း ပါဝင်သည်ဟု မှတ်ယူရမည်။)

**ဆောင်ရွက်ရမည့်လုပ်ငန်းများ**

၃။ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းနှင့် ပတ်သက်၍ ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

(က) "ဌာန" သည် "ကုမ္ပဏီ" ကိုမြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်နှင့်အနီး တဝိုက် ကျေးရွာများတွင် ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချစေရမည်။

(ခ) "ကုမ္ပဏီ" သည် မြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်မှတဆင့် ဒီဇယ်မီးစက်ဖြင့် ဓာတ်အားပမာဏ ၂ မီဂါဝပ် (2MW) အား ထုတ်လုပ်မှုပြုလုပ်ပြီး လေးကေ့ကော်မြို့သစ်နှင့် အနီးတစ်ဝိုက်ကျေးရွာများသို့ လျှပ်စစ်ဓာတ်အား ရရှိရေးအတွက် စီစဉ်ဆောင်ရွက်ပြီးဓာတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချရမည်။

(ဂ) "ကုမ္ပဏီ" သည် မိမိပိုင်ငွေဖြင့် အသုံးစရိတ် အားလုံးကို ကျခံ၍ "ဌာန" နှင့် ညှိနှိုင်းပြီး ဒေသအာဏာပိုင်ထံ တင်ပြအတည်ပြု ထားပြီးဖြစ်သည့်အတိုင်း ဓာတ်အား ဖြန့်ဖြူးရောင်းချရမည်။

(ဃ) "ဌာန" ၏ အမည်ကောင်း (Good will) နှင့် လုပ်ပိုင်ခွင့်များကို ဆက်လက် အသုံးပြုမှုအတွက် တစ်ယူနစ် လျှင် ၅ ကျပ်နှုန်း ဖြင့် သုံးစွဲ ဓာတ်အား ကီလိုဝပ်နာရီ (ယူနစ်) အပေါ် တွက်ချက်ရရှိသော နိုင်ကြေး (Royalty Fee) အား "ကုမ္ပဏီ" မှ "ဌာန" သို့ ပေးချေရမည်။ "ဌာန"အတွက် နိုင်ကြေးပေးချေရာတွင် ကုမ္ပဏီက လျှပ်စစ်ဓာတ်အားခ ကောင်းခံသည့် နောက်လမကုန်မီ အကျေပေးဆောင်ရမည်(ကြွေကျန်ထားရှိခြင်းမရှိစေရ)။

(င) ယခုသတ်မှတ်ထားသော နိုင်ကြေး ကို ကုမ္ပဏီ၏ အကျိုးအမြတ် ရရှိမှု အပေါ် အခြေခံ၍ နှစ်ဘက်ညှိနှိုင်းပြင်ဆင်သတ်မှတ်နိုင်သည်။

အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၄။ ဤစာချုပ်ချုပ်ဆိုသူ "အစိုးရအဖွဲ့" သည် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှု ကော်မတီ၏ ခွင့်ပြုချက်ဖြင့်လျှပ်စစ်ဥပဒေအရ အခွင့်အာဏာရှိသူဖြစ်ပြီး၊ "ကုမ္ပဏီ" သည် ငွေကြေးအင်အား ပြည့်စုံသူ ဖြစ်ကြောင်း အသီးသီး အာမခံကြသည်။

ဌာန နှင့် အစိုးရအဖွဲ့မှ ဆောင်ရွက်ရမည့် တာဝန်များ

၅။ "ဌာန" နှင့် "အစိုးရအဖွဲ့" မှ ဆောင်ရွက်ရမည့် တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) "အစိုးရ" အဖွဲ့က ဌာနသို့ တာဝန်ပေးအပ်ခြင်းခံရသူသည် လစဉ်သတ်မှတ်ရက်အတွင်း စက်ထွက် ယူနစ်ကို ဖတ်ယူပြီး ကုမ္ပဏီ တာဝန်ရှိသူနှင့် အတူ လက်မှတ်ရေးထိုးမှတ်တမ်းထားရှိရမည်။

(ခ) ဤစာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်ခဲ့သည့် အတွက် "ကုမ္ပဏီ" မှ ပေးဆောင်ရမည့် ပြည်တွင်း အခွန်အခများ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ရရှိစေရန် "အစိုးရအဖွဲ့" မှ ကူညီဆောင်ရွက် ပေးရမည်။

(ဂ) "ဌာန" သည် မြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်နှင့်အနီးတဝိုက်ကျေးရွာများတွင် ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချရေး လုပ်ငန်းအတွက် လိုအပ်သောကျွမ်းကျင်မှုဆိုင်ရာ နည်းပညာများကို ပံ့ပိုး ကူညီပေးရမည်။

(ဃ) ဒီဇယ်စက်ဖြင့် ဓာတ်အားဖြန့်ဖြူးပေးဝေရခြင်း ဖြစ်သည့်အတွက် ဒီဇယ်ဆီဈေးနှုန်း (စတင် ဖြန့်ဖြူး ရောင်းချသည့် အချိန်က ဈေးနှုန်းထက်) ၂၀ ရာခိုင်နှုန်း ကျော်လွန် မြင့်တက်လာပါက ဓာတ်အားခ ဈေးနှုန်းပြင်ဆင်ကောက်ခံနိုင်ရန် အတည်ပြုချက်ရယူ၍ ပြင်ဆင်ခွင့်ပြု ပေးနိုင်ရမည်။

(င) လျှပ်စစ်ဓါတ်အားထုတ်လုပ်ခြင်းလုပ်ငန်းအတွက်ဒီဇယ်ဖြင့်လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်းကို သော်လည်းကောင်း၊နေရောင်ခြည် မှ တဆင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်းကိုသော် လည်းကောင်း ၊ ဒီဇယ်မှဓါတ်အားထုတ်လုပ်ခြင်းနှင့်နေရောင်ခြည် မှ ဓါတ်အားထုတ်လုပ်ခြင်းကိုတွဲ ဖက်လျက် ဓါတ်အားထုတ်လုပ်ခြင်းကိုသော်လည်းကောင်း ကုမ္ပဏီ၏ အစီအစဉ်ဖြင့် ဆောင်ရွက်ပါက ဌာနမှခွင့်ပြုရမည်။

(စ) ကုမ္ပဏီ၏ အစီအစဉ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အား လိုအပ်ချက်ရှိနေသေးပါက ထိုင်းနိုင်ငံရှိ PEA (ProvincialElectricity Authority of Thailand) နှင့်ပေါင်းစပ်၍လျှပ်စစ်ဓါတ်အားဝယ်ယူဖြည့်တင်းခြင်းကိုအစိုးရအဖွဲ့မှခွင့်ပြုပေးရပါမည်။

(ဆ) သတ်မှတ်သက်တမ်းမတိုင်မီ လေးကော့ကော်ဒေသသို့ မဟာဓာတ်အားလိုင်းရောက်ရှိလာပါက ကုမ္ပဏီမှ ငွေကြေးသန်းပေါင်းများစွာကို ရင်းနှီးမြှုပ်နှံ၍ အခြေခံအဆောက်အဦများ ထူထောင် ပေးထားရခြင်းကို ထောက်ရှုသောအားဖြင့် ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းကို ကုမ္ပဏီအားဆက်လက်လုပ်ကိုင်ခွင့်ပြုရန် အစိုးရမှထောက်ခံ၍ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြပေးရပါမည်။

**ကုမ္ပဏီ မှ ဆောင်ရွက်ရမည့် တာဝန်များ**

၆။ "ကုမ္ပဏီ" မှ ဆောင်ရွက်ရမည့် တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) "ကုမ္ပဏီ" သည် မြဝတီမြို့နယ် ၊ လေးကော့ကော်မြို့သစ်နှင့်အနီးတဝိုက်တွင် ကုမ္ပဏီပိုင် ပစ္စည်းများ၊ အဆောက်အအုံပြု စက်ကိရိယာများနှင့် လိုအပ်သောအခြားစရိတ်များကျခံလျက် ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းကို တာဝန်ယူ ဆောင်ရွက်ရမည်။

(ခ) မြဝတီမြို့နယ်၊ လေးကော့ကော်မြို့သစ်နှင့်အနီးတဝိုက်တွင် ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချရာ၌ လျှပ်စစ်ဥပဒေ၊ လျှပ်စစ်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့် "ဌာန" ၏ တည်ဆဲ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများအတိုင်း ဆောင်ရွက်ရပါမည်။

(ဂ) "ဌာန" မှ လွှဲပြောင်းရယူသော စက်ကိရိယာများအား ထိန်းသိမ်းပြုပြင်ရန် လိုအပ်ပါက ကုမ္ပဏီ၏ ကုန်ကျစရိတ်ဖြင့် ပြုပြင်ရမည်။ အဆိုပါ စက်ကိရိယာများအား အသုံးမလိုပါက ပြန်အပ်ရန်နှင့် အဆောက်အဦများ ပြုပြင်/ပြင်ဆင်ရန်တို့ကို "ဌာန" နှင့် ညှိနှိုင်းပေးရမည်။

(ဃ) လျှပ်စစ်အန္တရာယ် ကင်းရှင်းရေးနှင့် ဓာတ်အားပျောက်ဆုံးမှု လျော့နည်းစေရန် အတွက် ဓာတ်အားလိုင်းနှင့် ထိစပ်နေသော သစ်ပင်၊ သစ်ကိုင်းများ ရှင်းလင်းရေး၊ ဓာတ်အားလိုင်း ကြိုးများ၊ ဓာတ်အားလိုင်းတိုင်များ၊ ဓာတ်အားခွဲရုံများ ကြံ့ခိုင် ကောင်းမွန်စေရေး တို့ကို ဆောင်ရွက်ရမည်။ မြဝတီမြို့နယ်၊ လေးကော့ကော်မြို့သစ်နှင့်အနီးတဝိုက်တွင် ဓာတ်အား ဖြန့်ဖြူးရေးအတွက် ထပ်မံ လိုအပ်သော စက်ကိရိယာ ပစ္စည်းများကို ထပ်မံဝယ်ယူခြင်း၊ ဓာတ်အားလိုင်း၊ ဓာတ်အားခွဲ ရုံများ တိုးချဲ့တည်ဆောက်ခြင်းတို့ကို "ဌာန" ၏ စံချိန်စံညွှန်းများအတိုင်း ဆောင်ရွက်ရမည်။ ထိုကဲ့သို့ဆောင်ရွက်ခြင်းများကို "ဌာန" ၏ အတည်ပြုချက်ရယူပြီး မှဆောင်ရွက်ရမည်။

(င) "ကုမ္ပဏီ" သည် မီတာအသစ် တပ်ဆင်ခြင်း၊ မီတာဖတ်ခြင်း၊ ငွေတောင်းခံခြင်း၊ ဓာတ်အားခကောက်ခံခြင်း၊ ဓာတ်အားဖြတ်တောက်ခြင်း၊ တရားမဝင်ဓာတ်အားသုံးစွဲမှုများ ဖော်ထုတ်အရေးယူခြင်း၊ စသည်တို့ကို တည်ဆဲ လျှပ်စစ်ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများနှင့် အညီဆောင်ရွက်ရမည်။

(စ) ကုမ္ပဏီ၏အစီအစဉ်ဖြင့်တည်ဆောက်ထားသောဓာတ်အားလိုင်းများခွဲရုံများအားလျှပ်စစ်ဖြန့်ဖြူးရောင်း ချခြင်းလုပ်ငန်းသက်တမ်း (၁၀) နှစ် ကုန်ဆုံးပါက "ဌာန" သို့တန်ဖိုးသင့်ခြင်းမပြုပဲ လွှဲပြောင်းပေးရမည်။

(ဆ) သတ်မှတ် သက်တမ်းမတိုင်မီ လေးကော့ကော် ဒေသ သို့ ဓာတ်အားစနစ် ရောက်ရှိလာပါက ကုမ္ပဏီ မှ ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း ကို ဆက်လက်လုပ်ကိုင်ခွင့်ပြုရန် တင်ပြလျှောက်ထားမည်ဖြစ်ပြီး လျှပ်စစ် နှင့် စွမ်းအင် ဝန်ကြီး ဌာန မှ ခွင့်မပြုခဲ့ပါက လေးကော့ကော်ဒေသ မီးလင်းရေး ကော်မတီ နှင့် ကုမ္ပဏီ မှ

မိမိ၏ အစီအစဉ်ဖြင့် မူလခွင့်ပြုထားသော လုပ်ငန်းသက်တမ်း ကုန်ဆုံးသည်အထိ ဆက်လက်လုပ်ကိုင်ဆောင်ရွက်သွားမည်။

(ဓ) မြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်နှင့်အနီးတဝိုက်ဒေသ၏ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရေး အတွက် "ကုမ္ပဏီ" တွင် အပြည့်အဝ တာဝန်ရှိသဖြင့် ဓာတ်အားသုံးစွဲသူများ၏ မကျေနပ်ချက်၊ တိုင်ကြားချက်များ ရှိလာပါ က "ကုမ္ပဏီ" က တာဝန်ယူ၍ ကျေလည်မှု ရရှိသည်အထိဖြေ ရှင်းဆောင်ရွက်ပေးရမည်။

(န) လုပ်ငန်းခွင့်ပြုသည့်ကာလ ကုန်ဆုံးသည့်နေ့မှ (၄)လ အတွင်း "ကုမ္ပဏီ" သည် မိမိပိုင် ပစ္စည်းကိရိယာများနှင့် "ဌာန" မှ လွှဲပြောင်းရယူထားသော ပစ္စည်းကိရိယာများ (ရှိပါက)ကို ကောင်းမွန်သော အနေအထားဖြင့် "ဌာန" သို့ စနစ်တကျ ပြန်လည်လွှဲပြောင်း ပေးရမည်။ ထို့အပြင် လေးကေ့ကော်ဒေသ ၏ လျှပ်စစ်ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေး အတွက် (System Improvement) လုပ်ငန်းများကို ဘဏ္ဍာနှစ်အလိုက် စီမံချက်ချကာ လုပ်ဆောင်သွား ရမည်။

(ည) လျှပ်စစ်မီးရရှိရေးကိစ္စ၊ ဓာတ်အားခ ဈေးနှုန်းကိစ္စနှင့် အခြားကိစ္စတို့အား စာချုပ်သက်တမ်း ကာလအတွင်း "ကုမ္ပဏီ" မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဋ) "ကုမ္ပဏီ" သည် ဓာတ်အားဖြန့်ဖြူး ရောင်းချရန် ခွင့်ပြုထားသော လုပ်ငန်းကို ကိုယ်တိုင် လုပ်ကိုင်ခြင်း မရှိဘဲ တစ်ဆင့်လွှဲပြောင်း ရောင်းချခြင်း လုံးဝမပြုရ။

(ဌ) တိုးချဲ့မီးပေးဝေရေးဆောင်ရွက်လိုပါက"ကုမ္ပဏီ" က ကရင်ပြည်နယ်အစိုးရ ၊ လျှပ်စစ်နှင့်စက်မှုဝန်ကြီး ဌာနထံ တင်ပြ ဆောင်ရွက်သွားရမည်။

(ဍ) မီတာခကောက်ခံမှုအား "ကုမ္ပဏီ" က ကောက်ခံရမည်ဖြစ်ပြီး သက်ဆိုင်ရာသို့ ပေးသွင်းရန် ရှိသော အခွန်အခများ အားလုံးကို စနစ်တကျ အချိန်မီ ပေးသွင်းသွားရန်နှင့် ထိုသို့ ပေးသွင်းပြီးကြောင်းကို စာရင်းဇယား၊ အထောက်အထားများနှင့်တကွ လစဉ် သတ်မှတ်သော ရက်တွင် လျှပ်စစ်စွမ်းအင် ဝန်ကြီးဌာနနှင့် ကရင်ပြည်နယ် အစိုးရ၊ လျှပ်စစ်နှင့် စက်မှုဝန်ကြီးဌာနသို့ ရှင်းလင်းတင်ပြသွားရမည်။

(ဎ) "ကုမ္ပဏီ" သည် အင်ဂျင်နီယာဘွဲ့ရ လျှပ်စစ်အင်ဂျင်နီယာ၊ အင်ဂျင်နီယာလက်မှတ်ရ လျှပ်စစ်အင်ဂျင်နီယာ၊ လျှပ်စစ်ကျွမ်းကျင်ဆိုင်ရာ လက်မှတ်ရရှိသော ဝန်ထမ်း အဆင့်တိုင်းကို အဆိုပြုစဉ်က ဦးရေအတိုင်း အနည်းဆုံးခန့်ထား ဆောင်ရွက်ရန်နှင့် လုပ်ငန်းနယ်ပယ် တိုးလာပါက လိုအပ်ချက်နှင့် အညီ ဦးရေလုံလောက်စွာ တိုးမြှင့်ခန့်ထား ဆောင်ရွက်ရမည်။

(ဏ) သတ်မှတ်ဗို့အားပြည့်မီအောင် ဆောင်ရွက်ပေးရန်၊ ပုံမှန် ထိန်း/ပြင်လုပ်ငန်းများ ဆောင်ရွက် ခြင်းကြောင့် ဓာတ်အားပြတ်တောက်ရန် ရှိပါက ဓာတ်အားသုံးစွဲသူများသို့ ကြိုတင်အသိပေးရန်၊ အပြစ်တစ်စုံတစ်ရာ ဖြစ်ပွားမှုကြောင့် လျှပ်စစ်ဓာတ်အား ပြတ်တောက်မှု ဖြစ်ပါက အများဆုံး (၂၄)နာရီ အတွင်း ဓာတ်အားပြန်လည် ဖြန့်ဖြူးပေးနိုင်ရေး ဆောင်ရွက်ပေးရမည်။ (၃) ရက်နှင့်အထက် လျှပ်စစ်ဓာတ်အား ပြတ်တောက်မည့် အခြေအနေ ရှိလျှင် အရေးကြီးသော ဌာနများသို့ လျှပ်စစ်ဓာတ်အား ပြတ်တောက်မှု မရှိစေရေးအတွက် "ကုမ္ပဏီ" က တာဝန်ယူ စီစဉ်ဆောင်ရွက်ပေးရမည်။

(တ) ကြီးမားသော သဘာဝ ဘေးအန္တရာယ် တစ်ရပ်ရပ်နှင့် စစ်မက်ဖြစ်ပွားခြင်းကဲ့သို့ ကိစ္စကြီးများမှအပ သာမန် သဘာဝ အန္တရာယ် (လေပြင်း တိုက်ခတ်ခြင်း၊ ရေကြီးခြင်း၊ သစ်ပင်လဲခြင်း) ကိစ္စရပ်တို့ကြောင့်

လုပ်ငန်းပိုင် ပစ္စည်းများ ဆုံးရှုံးမှု ဖြစ်ပေါ်ပါက "ကုမ္ပဏီ" က မူလအခြေအနေအတိုင်း လျှပ်စစ်ဓာတ်အား ဆက်လက်ဖြန့်ဝေနိုင်ရေးအတွက် ဖြည့်ဆည်း ဆောင်ရွက်ပေးရမည်။

(ထ) လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရာတွင် တရားဥပဒေနှင့် မလျော်ညီသော ကိစ္စရပ်များ ဖြစ်ပွားပါက ဖြစ်မှုဆိုင်ရာ ဥပဒေအရ လည်းကောင်း၊ အခြားတည်ဆဲ ဥပဒေ တစ်ရပ်ရပ် အရ လည်းကောင်း အရေးယူသည့် ကိစ္စရပ်ကို ပိတ်ပင်ခြင်း မရှိစေရ။

(ဒ) မြန်မာနိုင်ငံ လျှပ်စစ်ဓာတ်အား စနစ်ကွန်ရက် (National Grid) မှ လျှပ်စစ်ဓာတ်အားများကို လေးကော့ကော်ဒေသ သို့ ဖြန့်ဖြူးပေးနိုင်မည့် အချိန်တွင်လုပ်ငန်း လုပ်ကိုင်ခွင့်ကာလ သက်တမ်း ကုန်ဆုံးခြင်း မရှိသေးပါက ပြည်ထောင်စု လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ခွင့်ပြုချက် ရရှိလျှင် "ကုမ္ပဏီ" က ဆက်လက်လုပ်ကိုင်ခွင့် ရှိသည်။ ဓာတ်အားပေးစက်ဖြင့် ဖြန့်ဖြူးရောင်းချနေသည့် အစီအစဉ်ကို ဓာတ်အားစနစ် ရောက်ရှိလာသော ကာလတွင် ရပ်ဆိုင်းပေးရမည်။ ဓာတ်အားစနစ်မှ ဓာတ်အားကို "ကုမ္ပဏီ" က ပြောင်းလဲဝယ်ယူ၍ လုပ်ငန်းဆက်လက် လုပ်ကိုင်လိုပါက "ဌာန" သို့ တင်ပြ၍ ခွင့်ပြုချက် ရယူရမည်။ ကောက်ခံမည့် ဓာတ်အားနှုန်းထားများကို လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနနှင့် ကရင်ပြည်နယ် အစိုးရအဖွဲ့ထံ တင်ပြညှိနှိုင်း အတည်ပြုချက်ဖြင့် ပြင်ဆင်ကောက်ခံ ဆောင်ရွက်ရမည်။

(ဓ) စာချုပ်ပါ သတ်မှတ်ချက်၊ စည်းကမ်းချက်များကို ပြင်ဆင်လိုပါက "ကုမ္ပဏီ" သည် ကရင်ပြည်နယ်အစိုးရ၊ လျှပ်စစ်နှင့် စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ သဘောတူညီချက် ရယူပြီး ပြင်ဆင်ခွင့်ရှိသည်။ ထိုပြင်ဆင်ချက်များသည် စာချုပ်၏ အစိတ်အပိုင်း တစ်ရပ် ဖြစ်သည်ဟု မှတ်ယူရမည်။

(န) "ကုမ္ပဏီ" သည် ကရင်ပြည်နယ် အစိုးရအဖွဲ့၏ ကိုယ်စား မြဝတီ ခရိုင်နှင့် မြို့နယ် အုပ်ချုပ်ရေးမှူးတို့၏ ကြီးကြပ်မှုကို လည်းကောင်း၊ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေး လုပ်ငန်း၏ ကိုယ်စား မြဝတီခရိုင်နှင့် မြို့နယ် လျှပ်စစ်အင်ဂျင်နီယာတို့၏ ကြီးကြပ်မှု တို့ကို ခံယူရမည်။

(ပ) "ကုမ္ပဏီ" သည် လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာနနှင့် ကရင်ပြည်နယ် အစိုးရ အဖွဲ့ရုံးတို့မှ အခါအား လျော်စွာထုတ်ပြန်သည့် ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရမည်။

(ဖ) "ကုမ္ပဏီ" သည် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရောင်းချရာတွင် လျှပ်စစ်ဓာတ်အားခနှုန်းထား များကို သတ်မှတ်နှုန်းထားများအတိုင်း ကောက်ခံရမည်။ အများပြည်သူ နေအိမ်များ အတွက် အိမ်သုံး တစ်ယူနစ်လျှင် (၈) ဘတ်နှုန်းနှင့်ညီမျှသော ကျပ်ငွေဖြင့် လည်းကောင်း၊ "ကုမ္ပဏီ" သည် အသေးစား စက်မှုလုပ်ငန်းများ၊ အလတ်စား စက်မှုလုပ်ငန်းများ နှင့် လျှပ်စစ်ကိုအသုံးပြု၍ စီးပွားရေးလုပ်ကိုင်သော လုပ်ငန်းများကို စက်မှုသုံး တစ်ယူနစ်လျှင် ဓာတ်အားခ ( ၉ ) ဘတ် နှုန်းနှင့် ညီမျှသော ကျပ်ငွေဖြင့် လည်းကောင်း ကောက်ခံရမည်။

(ဗ) နိုင်ငံတော်အတွက်ပြုလုပ်သော အခမ်းအနားပွဲတော်များတွင် ရပ်ကွက်အလိုက် ပြုလုပ်သော မီးထွန်းပွဲတော်များ၌ ဓာတ်အားအသုံးပြုလိုပါက ကြိုတင်အကြောင်းကြား မည်ဖြစ်ပြီး ရက်တို၊ ယာယီအစီစဉ်ဖြင့် လျှပ်စစ်ဓာတ်အား အခမဲ့ဆောင်ရွက်ပေးရမည်။

(ဘ) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန မူဝါဒနှင့် အမိန့်ညွှန်ကြားချက် အတိုင်း လိုက်နာဆောင်ရွက် ရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့် နှင့် သက်တမ်းတိုးမြှင့်ရေး တို့ကို လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

**ဆောင်ရွက်ရန် ကာလသတ်မှတ်ခြင်းကိစ္စ**

၇။ လုပ်ငန်းဆောင်ရွက်ရန် ကာလကို စာချုပ်ချုပ်ဆိုပြီးသည့်ရက်မှ နိုင်ငံတော် ဓာတ်အား ဖြန့်ဖြူးသည့်နေ့ (သို့မဟုတ်) တစ်နှစ်သက်တမ်း ပြည့်မြောက်သည့်နေ့ (            .            .            ) တို့အနက် စောရာနေ့အထိ ဆောင်ရွက်ခွင့်ပြုသည်။ နိုင်ငံတော် ဓာတ်အားစနစ် မရရှိသေးမီအတွင်း ခွင့်ပြုကာလပြည့်ပါက လုပ်ငန်းဆောင်ရွက်မှု အခြေအနေကို ထပ်မံညှိနှိုင်းပြီး ဆောင်ရွက်မည့် ကာလသတ်မှတ်၍ စာချုပ် ထပ်မံ ချုပ်ဆိုဆောင်ရွက်ရမည်။

**ရုပ်သိမ်းခြင်း**

၈။ ဤပဋိညာဉ် စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ်ကြောင့် ရုပ်သိမ်းလိုပါက တည်ဆဲဥပဒေ နှင့် အညီ နှစ်ဦးနှစ်ဘက် နစ်နာမှု မရှိစေရန် အကြေအလည် ညှိနှိုင်းပြီး သက်သာစွာ တောင်းဆို၍ ရုပ်သိမ်းနိုင်သည်။

(က) ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရန် စာချုပ်ဝင် တစ်ဘက်ဘက်မှ အကြောင်းမဲ့ ပျက်ကွက်ခဲ့လျှင်။

(ခ) ဤစာချုပ်ပါ လုပ်ငန်းဆောင်ရွက်ရန် တစ်ဘက်ဘက်မှ စွမ်းဆောင်နိုင်မှု မရှိတော့လျှင်။

(ဂ) နိုင်ငံတော်မှ အကျိုးအကြောင်း ခိုင်လုံစွာဖြင့် ရုပ်သိမ်းလိုလျှင်။

(ဃ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် (၆) လထက် ကျော်လွန်၍ ဆက်တိုက်ဖြစ်ပွားလျှင်။

**လျှပ်စစ်ဓာတ်အားခ နှုန်းထားများ သတ်မှတ်ခြင်းကိစ္စ**

၉။ "ကုမ္ပဏီ" သည် လျှပ်စစ်ဓာတ်အားခ နှုန်းထားများကို ပြည်နယ်အစိုးရအဖွဲ့၊ သက်ဆိုင်ရာဒေသ အာဏာပိုင် အဖွဲ့အစည်း နှင့် ဓာတ်အားသုံးစွဲသူတို့၏ ထောက်ခံချက်များဖြင့် ဒေသအလိုက် သင့်လျော်သော နှုန်းထားများကို အစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် သတ်မှတ်ကောက်ခံ ရမည်။

**အငြင်းပွားမှု ဖြေရှင်းခြင်း**

၁၀။ ဤသဘောတူ စာချုပ်နှင့် ပတ်သတ်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ဖြစ်ပေါ်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှု တစ်ဖက်ဆီက တစ်ဦးစီခန့်ထား သော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီး နှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတ စီရင် ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်း ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့် အညီ ဖြစ်စေရမည်။

အနည်းဆုံး စီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း နေပြည်တော်၌ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်ကို အမှုရှုံးသူက ကျခံရမည်။

၁၁။ ဤသဘောတူညီချက်အရ ဆောင်ရွက်ရမည့် တာဝန်များပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေး ကြန့်ကြာခြင်းများ ဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များနှင့်အညီ ဖြစ်ပါက နှစ်ဦးနှစ်ဖက် ကင်းလွတ်ခွင့် ပြုရမည်။ ယင်းမလွန်ဆန်နိုင်သည့် ဖြစ်ရပ်ကြောင့် တစ်ဘက်မှ မိမိလိုက်နာ ဆောင်ရွက်ရမည့် တာဝန် တစ်စိတ်တစ်ဒေသကို ဖြစ်စေ၊ အားလုံးကိုဖြစ်စေ၊ ဆောင်ရွက်ခြင်းမှ စေတ္တဆိုင်းငံ့ရမည့် အခြေအနေ ပေါ်ပေါက်လာလျှင် ထိုသို့ဆိုင်းငံ့ရမည့် ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့် ကာလကို ဖော်ပြလျက် ပေါ်ပေါက်သည့် နေ့မှ (၁၄) ရက်အတွင်း နစ်နာသူ အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြားရမည်။ ဤသို့ အကြောင်းကြားခြင်းကို တစ်ဘက်မှ အတည်ပြု လက်ခံမှသာ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ပြောက်ပြီး ထိုနစ်နာသော အချိန်ကာလအတွက် တာဝန်ဝတ္တရားများ ဖြေလျှော့ပေးရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကို အမြန်ဆုံး ကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

၁၂။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ဆိုသည်မှာ သဘာဝအတိုင်း ကျရောက်သည့် သဘာဝဘေး အန္တရာယ်၊ ရေဘေးအန္တရာယ်၊ အလုပ်သမားများ ဆန္ဒပြမှု၊ စစ်မက်ဖြစ်ပွားမှု၊ ကူးစက်ရောဂါ၊ မြေငလျင်၊ လျှပ်စီးလျှပ်မှု၊ မုန်တိုင်းမိုးကြိုးပစ်မှု၊ ရေကြီးမှု၊ ပေါက်ကွဲမှုနှင့် အခြားအလားတူ ထိန်းချုပ်မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဘက်ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သော ဖြစ်ရပ်များ ပါဝင်ပါသည်။

**ကြီးကြပ်ကွပ်ကဲရေးအဖွဲ့ ဖွဲ့စည်းဆောင်ရွက်ခြင်း**

၁၃။ လုပ်ငန်းဆောင်ရွက်မှုများကို ကြီးကြပ်နိုင်ရန်အတွက် ဒေသခံ ကိုယ်စားလှယ် (၂) ဦး၊ "အစိုးရအဖွဲ့" မှ ကိုယ်စားလှယ် (၂)ဦး၊ "ကုမ္ပဏီ" မှ ကိုယ်စားလှယ် (၂)ဦး၊ ပါဝင်သော ကြီးကြပ်ကွပ်ကဲရေး အဖွဲ့ဖွဲ့စည်း ကာ လိုအပ်သော လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ ထုတ်ပြန်၍ ကြီးကြပ်ကွပ်ကဲ သွားရမည်။ စာချုပ်တွင် မပါရှိသော ကိစ္စရပ်များရှိပါက ကြီးကြပ်ကွပ်ကဲရေး အဖွဲ့မှ ညှိနှိုင်း ဆောင်ရွက်ရမည်။

**လုပ်ငန်းများကို စစ်ဆေးခြင်း**

၁၄။ ဤစာချုပ်အရ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးခြင်းနှင့်ပတ်သက်သော လုပ်ငန်းများ၊ စာရင်းဇယားများကို "ဌာန" နှင့် "အစိုးရအဖွဲ့" မှ အချိန်အခါမရွေး စစ်ဆေးပိုင်ခွင့်ရှိသည်။ ဤကဲ့သို့ "ဌာန"နှင့် "အစိုးရအဖွဲ့" မှ ဆောင်ရွက်ခြင်းကို "ကုမ္ပဏီ"မှ အချိန်အခါ မရွေး စစ်ဆေးခံနိုင်ရမည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၁၅။ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

**စာချုပ်လက်မှတ် ရေးထိုးခြင်းကိစ္စ**

၂၀။ အထက်ပါစာချုပ်စည်းကမ်းများအား နှစ်ဦးနှစ်ဖက် သေချာစွာနားလည် သဘောပေါက်ကြ၍ ဤစာချုပ်ကို ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (၂) ရက်နေ့၌ အောက်ပါအသိသက်သေများရှေ့မှောက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

**ပြည်နယ်အစိုးရအဖွဲ့ (ကိုယ်စား)**

အမည် - ဦးစိုးလှိုင်
ရာထူး - ပြည်နယ်လျှပ်စစ်နှင့်စက်မှုဝန်ကြီး
ဌာန - ကရင်ပြည်နယ်အစိုးရအဖွဲ့

**မီးလင်းရေးကော်မတီ (ကိုယ်စား)**

အမည် - ဦးဝေဖြိုးသူ
ရာထူး - မန်နေးဂျင်းဒါရိုက်တာ
မှတ်ပုံတင်အမှတ် - ၁၂/မဂတ(နိုင်)၀၈၄၁၇၂
ဌာန - Green Alliance Energy Co.,Ltd

**အသိသက်သေများ**

၁။
အမည် - ဗိုလ်မှူးကြီးမျိုးမင်းနောင်
ရာထူး - လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီး
ဌာန - ကရင်ပြည်နယ်အစိုးရအဖွဲ့

၂။
အမည် - ဦးရန်နိုင်
ရာထူး - ဥက္ကဋ္ဌ၊ မြို့အကောင်အထည်ဖော်ရေးကော်မတီ
မှတ်ပုံတင်အမှတ် - KKK-136848
ဌာန - လေးကေ့ကော်မြို့သစ်

၃။
အမည် - ဦးခင်မောင်ဆန်း
ရာထူး - အတွင်းရေးမှူး
ဌာန - ကရင်ပြည်နယ်အစိုးရအဖွဲ့

၄။
အမည် - ဦးဇေယျာအောင်
ရာထူး - General Manager
မှတ်ပုံတင်အမှတ် - ၅/ဝသန(နိုင်)၀၃၅၅၃၃
ဌာန - Green Alliance Energy Co.,Ltd

ပုံစံ (၄ - က)

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊

ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ..............................

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ..............................
ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ..............................
အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..............................

(ဂ) နိုင်ငံသား ..............................

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ ..............................
..............................

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ..............................

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) ..............................

**မှတ်ချက်။** အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ..............................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..............................
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..............................

(ဃ) နိုင်ငံသား ..............................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ ..............................
..............................

(စ) တယ်လီဖုန်း /ဖက်စ် ..............................

(ဆ) အီးမေးလ်လိပ်စာ ..............................

**မှတ်ချက်။** တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☐ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး .................... %

အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး .................... %

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး .................... %

၄။ အစုရှယ်ယာ ၁၀ % နှုန်းနှင့်အထက်ပိုင်ဆိုင်သောအစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| | | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ....................

(ခ) အစုရှယ်ယာအမျိုးအစား ....................

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ....................

....................

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန်

၆။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

ကျပ်/US$(သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ....................

(ခ) နိုင်ငံခြားမှယူဆောင်လာသည့်မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ....................

စုစုပေါင်း ____________________

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ..............................

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ ..............................

..............................

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ..............................

၉။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက်၊ လိုင်စင်၊ ပါမစ်စသည်တို့ ရရှိပြီးပါက ပူးတွဲတင်ပြရန်။

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ၊ ☐ မရှိ

ရှိပါကလုပ်ငန်းဆောင်ရွက်မှုအခြေအနေကို ဖော်ပြပေးရန်

..............................

..............................

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်းရှိ/မရှိ ဖော်ပြရန်။

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

လျှောက်ထားသူလက်မှတ်

အမည် ..............................

ရာထူး ..............................

ဌာန/ကုမ္ပဏီတံဆိပ် ..............................

**ကတိဝန်ခံချက်**

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်းအာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ..............................

ရာထူး ..............................

ဌာန/ကုမ္ပဏီတံဆိပ် ..............................

Form (4 -A)

# Endorsement Application Form

To,

**Chairman**

**Myanmar Investment Commission**

Reference No.

Date.

I do apply for the endorsement in accordance with the Section 37 of the Myanmar Investment Law by furnishing the following particulars:

1. The Investor's :-
   - (a) Name ....................................................................................................
   - (b) Company Registration No/ ID No/ National Registration Card No /Passport ....................................................................................................
   - (c ) Citizenship ....................................................................................................
   - (d) Address/ Address of Registered Office ....................................................................................................
   - (e) Phone /Fax / E -mail: ....................................................................................................
   - (f) Type of Business(to describe in detail) ....................................................................................................

   **Note:** The following documents need to be attached according to the above paragraph (1) :-
   - (1) Company Registration Certificate (copy);
   - (2) ID No/ National Registration Card (copy) and Passport (copy);

2. If the investor don't apply for endorsement by himself / herself, the applicant;
   - (a) Name....................................................................................................
   - (b) Name of contact person ....................................................................................................
     (if applicant is business organization)

   **Note**: describe with attachment of letter of legal representative
   - (c) ID No./ National Registration Card No./Passport No. ....................................................................................................
   - (d) Citizenship ....................................................................................................
   - (e) Address in Myanmar :....................................................................................................
   - (f) Phone / Fax : ....................................................................................................
   - (g) E-mail : ....................................................................................................

3. Type of business organization to be formed:-

☐ One Hundred Percent ☐ Joint Venture ( To attach the draft of JV agreement)

☐ Type of Contractual Basis (To attach draft contract/agreement)

Share Ratio (Local) ............................................................%..............................

Share Ratio( Government Department/Organization) ............................%..............................

Share Ratio( Foreigner) ............................................................%..............................

4. List of Shareholders Owned 10 % of the Shares and Above

| No | Name of Shareholder | Citizenship | Share Percentage |
|---|---|---|---|
| | | | |
| | | | |
| | | | |
| | | | |
| | | | |

5. Particulars of Company Incorporation

(a) Authorized Capital ..............................................................................

(b) Type of Share ..............................................................................

(c) Number of Shares ..............................................................................

..............................................................................

**Note:** Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5.

6. Particulars of Paid-up Capital of the Investment

**Kyat/US$ (Million)**

(a) Amount/Percentage of local capital to be contributed ..............................................

(b) Amount/Percentage of foreign capital to be brought in ..............................................

Total ______________

7. Particulars of the Investment Project-

   (a) Investment location(s)/place(s).................................................................................

   .................................................................................................................................

8. Amount of Investment .....................................................................................

9. The liscense, Permit, Permission, and etc; of the relevant organizations shall be attached if they are received.

10. Commencement of Business ☐ Yes ☐ No

    If it is commenced , describe the performance of business activities;

    .................................................................................................................................

11. Describe whether other applications are being submitted together with the Endorsement Form or not:

    ☐ Land Rights Authorization Application

    ☐ Tax Incentive Application

Signature of the applicant .......................................

Name: .......................................

Title: .......................................

Department /Company .......................................

(Seal/Stamp)

Date:---------------------------

## Undertaking

I / We hereby declare that the above statements are true and correct to the best of my/our knowledge and belief.

I /We fully understand that endorsement application may be denied or unnecessarily delayed if applicant fails to provide required information to access by Commission for issuance of endorsement.

I/We hereby declare to strictly comply with terms and conditions set out by the Myanmar Investment Commission .

Signature of the applicant ..................................................

Name: ..................................................

Title: ..................................................

Department /Company ..................................................

(Seal/Stamp)

Date:----------------------------

ပုံစံ(၄ - က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ မတ်လ ၂၉ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၃၇နှင့်အညီ အောက်ဖော်ပြပါအချက်များအားဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးဝေဖြိုးသူ |
| (ခ) | ကုမ္ပဏီမှတ်ပုံတင်အမှတ်<br>နိုင်ငံသားစိစစ်ရေးကဒ်အမှတ် /<br>နိုင်ငံကူးလက်မှတ်အမှတ် | -<br>-<br>- | ၁၃၀၉ / ၂၀၁၅ -၂၀၁၆ (နပတ)<br>၁၂/မဂတ(နိုင်)၀၈၄၁၇၂ |
| (ဂ) | နိုင်ငံသား | - | ဗမာ |
| (ဃ) | နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့် ကုမ္ပဏီလိပ်စာ | - | အမှတ်-၃၁၀၊အခန်း-၀၀၄ ၊ဝင်းရွှေဝါကွန်ဒို၊ ဝါးတန်းလမ်းနှင့်အနော်ရထာလမ်းထောင့် ၊ လမ်းမတော်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| (င) | တယ်လီဖုန်း/ဖက်စ် / အီးမေးလ် လိပ်စာ | - | + 95 1 2302443 |
| (စ) | လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြရန်) | - | မြဝတီမြို့နယ်၊လေးကေ့ကော်မြို့သစ်နှင့် ပတ်ဝန်းကျင်ရွာများသို့ဒီဇယ်ဆီသုံး Generatorများဖြင့်လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့်လုပ်ငန်းအသေးစိတ်အား နောက်ဆက်တွဲ ( )ဖြင့်ဖော်ပြပါသည်။ |

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်း မဟုတ်ပါက လျှောက်ထားသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးဇေယျာအောင် (General Manager) |
| (ခ) | ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်<br>(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက) | - | ဦးဇော်မင်းအောင် (Director) |
| (ဂ) | နိုင်ငံသားစိစစ်ရေးကတ်အမှတ်<br>/ နိုင်ငံကူးလက်မှတ်အမှတ် | - | ၅/ဝသန(နိုင်) ၀၃၅၅၃၃ |
| (ဃ) | နိုင်ငံသား | - | ဗမာ |
| (င) | မြန်မာနိုင်ငံတွင် နေထိုင်သည့်လိပ်စာ | - | အခန်း(၂၀၁)၊ တိုက်(၂၉)၊ ကမာကြည် အိမ်ယာ ၊ သာကေတမြို့နယ်၊ ရန်ကုန်မြို့။ |

(စ) တယ်လီဖုန်း/ဖက်စ် - +95 9777272277

(ဆ) အီးမေးလ်လိပ်စာ - gm@gae.business

(တရားဝင် ကိုယ်စားလှယ်လွှဲစာအား နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြအပ်ပါသည်။)

၃။ ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☐ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း ( စာချုပ်မူကြမ်းတင်ပြရန်)

၄။ အစုရှယ်ယာ ၁၀% နှုန်းနှင့်အထက် ပိုင်ဆိုင်သောအစုရှယ်ယာရှင်များနှင့် ဒါရိုက်တာစာရင်းအား နောက်ဆက်တွဲ (က) ဇယားဖြင့် ဖော်ပြအပ်ပါသည် ။

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု |
|---|---|---|---|
| ၁။ | ဦးဝေဖြိုးသူ | မြန်မာ | ၂၅၀ |
| ၂။ | ဦးဇော်မင်းအောင် | မြန်မာ | ၁၂၅ |
| ၃။ | ဦးအောင်သန်းဦး | မြန်မာ | ၁၂၅ |
| | | | |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်း နှင့် သက်ဆိုင်သော အချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ်-၅၀,၀၀၀,၀၀၀ (ကျပ်သန်းငါးဆယ်တိတိ)

(ခ) အစုရှယ်ယာအမျိုးအစား - ကျပ်၁၀၀၀၀၀/- သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ - အစုရှယ်ယာ ( ၅၀၀)စု

(ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်သွားမည် ဖြစ်ပါသည်။)

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်ဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းမိတ္တူအား ပူးတွဲတင်ပြအပ်ပါသည်။

၆။ မတည်ငွေရင်းနှင့် သက်ဆိုင်သည့် အချက်အလက်များ -

ကျပ် / US$ (သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း - ၇၉၉၀.၁၃(ကျပ်သန်းပေါင်း)

(ခ) နိုင်ငံခြားမှယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း - မရှိပါ

(ဂ) စုစုပေါင်း - ၇၉၉၀.၁၃ (ကျပ်သန်းပေါင်း)

မှတ်ချက်။ ရင်းနှီးမြှုပ်နှံမည့် အသေးစိတ်စာရင်းအား နောက်ဆက်တွဲ ( ခ ၊ဂ၊ဃ၊င ) တို့ဖြင့်ပူးတွဲတင်ပြအပ်ပါသည်။

၇။ ချေးငွေနှင့် သက်ဆိုင်သည့် အချက်အလက်များ -

☐ ပြည်တွင်းချေးငွေ - မရှိပါ

-

☐ ပြည်ပချေးငွေ - မရှိပါ။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၁၀ နှစ်

၉။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလ သို့မဟုတ် ပြင်ဆင်မှုကာလ - (၁၂)လ ( တစ်နှစ်)

၁၀။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်း နှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ - လေးကော့ကော်မြို့သစ်၊မြဝတီမြို့၊ကရင်ပြည်နယ်

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး / ပမာဏ - ၇၈၉၀.၀၃' (ကျပ်သန်းပေါင်း)

၁၁။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ ။ ☐ မရှိ - မရှိပါ

မှတ်ချက်- ကရင်ပြည်နယ်အစိုးရအဖွဲ့ နှင့် လုပ်ငန်းဆောင်ရွက်ရန် သဘောတူချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်အား နောက်ဆက်တွဲဖြင့် ပူးတွဲ၍တင်ပြအပ်ပါသည်။

၁၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါလျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်းရှိ/မရှိ ဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ - မရှိပါ။

☐ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ - ရှိပါသည် ။

(နောက်ဆက်တွဲ( )ဖြင့် တင်သွင်းမည့်စာရင်းများနှင့်အတူ ပူးတွဲတင်ပြအပ်ပါသည်။ )

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့်အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်း အာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှစိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှေင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်းကို ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ၊

ရာထူး ၊

ဌာန/ကုမ္ပဏီတံဆိပ် ၊

# Green Alliance Energy Company Limited.

## အစုရှယ်ယာရှင်နှင့် ဒါရိုက်တာများအမည်စာရင်း

နောက်ဆက်တွဲ (က)

| စဉ် | အမည် နှင့်နေရပ်လိပ်စာ | လူမျိုး ၊ နိုင်ငံသားမှတ်ပုံတင် အမှတ် | ရာထူး | အစုရှယ်ယာ |
|---|---|---|---|---|
| ၁ | ဦးဇေဖြိုးသူ<br>No.(E-1828) ၊ Thiri Condo ၊ Taw Win Street , (4) Ward , Mayangone Township , Yangon | မြန်မာ<br>၁၂/မဂတ (နိုင်) ဝ၈၄၁၇၂ | Managing Director | ၂၅၀ |
| ၂ | ဦးဇော်မင်းအောင်<br>No.(2127) , Sintku Street , Yadanar Takedi Quarter , Ottaya Thiri Township , Nay Pyi Taw | မြန်မာ<br>၇ / ရတန (နိုင်) ဝဝ၉၄၉၁ | Director | ၁၂၅ |
| ၃ | ဦးအောင်သန်းဦး<br>No. (3339 ) , Kattar (16) Street, Ottaya Thiri Township, Nay Pyi Taw | မြန်မာ<br>၁၄ / ကလန (နိုင်) ဝ၇၉၉၃၃ | Director | ၁၂၅ |

# GREEN ALLIANCE ENERGY Co., Ltd.

## မတည်ငွေရင်းနှင့် ရင်းနှီးမြှုပ်နှံမည့်စာရင်း

နောက်ဆက်တွဲ (    )

| Sr.No | Particular | US$ | MMK | Total Amount Equivalent (MMK) |
|---|---|---|---|---|
| | **Equity Capital** | | | |
| 1. | Cash | | 1,000,000,000.00 | 1,000,000,000.00 |
| 2. | Land Purchase ( 5.0 Acres) | | 200,000,000.00 | 200,000,000.00 |
| 3 | Land Lease (2.0 Acres) | | 120,000,000.00 | 120,000,000.00 |
| 4 | Buildings & Fuel Tanks | | 651,500,000.00 | 651,500,000.00 |
| 5 | Rental charge of Generators& Accessories | | 3,023,770,000.00 | 3,023,770,000.00 |
| 6 | Machineries & Equipment | 772,080.49 | 1,278,237,679.00 | 2,301,244,328.25 |
| 7 | Vehicles | 407,547.18 | 16,069,500.00 | 540,000,013.50 |
| 8 | Furniture & Fixtures | | 37,447,400.00 | 16,069,500.00 |
| 9 | Office Utilities | | | 37,447,400.00 |
| | **Total** | **1,179,627.67** | **6,327,024,579.00** | **7,890,031,241.75** |
| | **Grand Total in MMK** | | | **7,890,031,241.75** |

Remark – Exchange Rate 1 US$ = 1325/- Kyats

Depreciation is calculated at 10% straight line method on value of buildings, machineries and equipment.

Wai Phyo Thu
Managing Director
Green Alliance Energy Co., Ltd.

www.gae.energy

No. 310, Corner of Wa Dan St & Anawrahta Rd,
Win Shwe Wah Condo, Room - 004,
Lanmadaw Township, Yangon

No. 101 (B), Aung Chan Thar Housing,
Aung Chan Thar Ward,
Thanlyin Township, Yangon

Tel : +951-230 2442, +951-230 2443  Fax : +951-230 2442

# Green Alliance Energy Company Limited

## ရင်းနှီးမြှုပ်နှံမည့် Buildings & Fuel Tanks အသေးစိတ်စာရင်း

နောက်ဆက်တွဲ ( ဂ )

| Sr | Description | Dimension | Qty | Total Cost (MMK) | Total Cost (US$) |
|---|---|---|---|---|---|
| 1 | Two storied Building (Management Office) | 100′ x 50′x 25′ | 1 unit | 210,000,000.00 | |
| 2 | Generators & Fuel Tanks Foundation | | 1 lot | 60,000,000.00 | |
| 3 | One storied Building (Staff Quarter) | 100′x30′x15′ | 1 unit | 50,000,000.00 | |
| 4 | One storied Building( Warehouse ) | 60′x 30′x 15′ | 1 unit | 8,000,000.00 | |
| 5 | One storied Building( Tech Office) | 60′x 30′ x 15′ | 1 unit | 40,000,000.00 | |
| 6 | Fuel Storage Tank , Fuel Supply System | 45,000 lit | 2 tanks | 91,500,000.00 | |
| 7 | Road , Plant Yard & Compound Fencing | | 1 lot | 87,000,000.00 | |
| 8 | Retaining Wall & drainage system | | 1 lot | 70,000,000.00 | |
| 9 | One storied Building ( Staff 's Mess) | 40′x30′x15′ | 1 unit | 20,000,000.00 | |
| 10 | One storied Building (Guard House ) | 30′x20′x15′ | 1 unit | 15,000,000.00 | |
| | | | | | |
| | Total cost For Buildings & Tanks | | | 651,500,000.00 | 491,698.11 |

**Remark : 1 USD is equivalent with 1325 /- Kyats**

